


# မိုလိုတော့

အတွဲ-၁၊ အမှတ်-၃၊ ဧပြီ၊ ၂၀၂၁

၁။ လူထုလှုပ်ရှားမှုများနှင့် အဆက်မပြတ်စေရန် ၂။ လှုပ်ရှားမှုနည်းနာများကို မျှဝေနိုင်ရန် f Molotov.to.Read


# ချစ်နိုင်

CENSORED

# ဒစ်ကိုင်

"သင်တို့ကို ရန်သူက အကြမ်းဖက်သမားဟု ခေါ်ဆိုသမုတ်ချင်သမုတ်လိမ့်မည်။ ထို့အတွက် တုန်လှုပ်စရာမလို။
ရန်သူက ထိုသို့သမုတ်ခြင်းမှာ သင်တို့၏တော်လှန်ရေးကို
အသိအမှတ်ပြု ကြောက်ရွံ့လာခြင်းမျှသာဖြစ်သည်။"

## မျိုးရိုးမှန်တဲ့ကဗျာ



ကဗျာ
ဘယ်အရပ်ဒေသမှာနေထိုင်ပါသလဲ ...။

အာဏာရူးစစ်ဘီလူးတွေရဲ့
အာဏာသိမ်းကြေညာချက်ထဲမှာ
ကဗျာမရှိ။

အာဏာရူးစစ်ဘီလူးတွေရဲ့
လက်ကိုင်တုတ်တွေထဲမှာ
ကဗျာမရှိ။

အာဏာရူးစစ်ဘီလူးတွေရဲ့
ကျည်ဆန်ထိပ်ဖူးတွေထဲမှာ
ကဗျာမရှိ။

ကဗျာဟာ
သူ့သစ္စာတရားအရပ်ဒေသမှာပဲ
သူ့ဂုဏ်သိက္ခာနဲ့သူ
ရှင်သန်နေထိုင်တယ်။

တို့အရေး တို့အရေး
ကြွေးကြော်သံတွေထဲမှာ ကဗျာရှိတယ်
သံပြိုင်သံပုံးတီးသံတွေထဲမှာ
ကဗျာရှိတယ်
သံပြိုင်ကားဟွန်းသံတွေထဲမှာ
ကဗျာရှိတယ်

တုန့်ပြန်တိုက်ခိုက်နေတဲ့ ရရာလက်နက်တွေထဲမှာ
ကဗျာရှိတယ်
ခေါင်းရိုက်ခွဲခံရလို့ စီးကျလာတဲ့သွေးတွေထဲမှာ
ကဗျာရှိတယ်
သေနတ်မှန်လို့ လဲကျသွားတဲ့ပြည်သူတွေရဲ့
နှလုံးအိမ်ထဲမှာ
ကဗျာရှိတယ်။

ကဗျာဟာ
မြန်မာ့နွေဦးတော်လှန်ရေးကို
ဂုဏ်ပြုလျက် ...။

ကဗျာဟာ
မြန်မာ့နွေဦးသူရဲ့ကောင်းတွေကို
ဦးညွှတ်လျက် ...။ ။

● ဘကျော်ဇင်းသား



## နွေဦးပန်းသပိတ်

ပွင့်ခွင့်မပေးတဲ့ အမိန့်သံ
ပန်းတို့ ဖီဆန်။

လှခွင့်မပြုတဲ့ကြေညာချက်
ပန်းတို့ကန့်ကွက်။

မွှေးခွင့်မရှိတဲ့ ပဋိညာဉ်
ပန်းတို့ ထီမထင်။

ဟော့ ...
လာကြ ...
ပွင့်ကြ လှကြ မွှေးကြ
ပန်းသဘာဝ လန်းခွင့်ရရန်
ပန်းအော်သံတွေ ပန်းမာန်အတိ
ပန်းအလံတွေ ပန်းခြံအပြည့်
ပန်းသတ္တိမွှေး
ပန်းတော်လှန်ရေးအတွက်
ပန်းပွင့်ခားတွေ သွေးထားကြ။ ။

● သံဖနောင့်

# ပြောက်ကျားစစ်ရဲ့ အခြေခံ

● တင်မြင့်ဇော် ●



စစ်တပ်ဖွဲ့စည်းပုံမှာ သုံးယောက် တဖွဲ့၊ သုံးဖွဲ့ တစိတ်လို့တွေ့တယ်။ ဒါပေမဲ့ စစ်ပညာကျမ်းတွေမှာတော့ တပ်စိတ်ကိုသာ အခြေခံယူနစ်အဖြစ် လက်ခံတယ်။

တိုက်ပွဲမှာ တပ်ရင်းရဲ့ အရှုံးအနိုင်ကို တပ်စိတ်တွေက ဆုံးဖြတ်တယ်လို့ ဆိုရိုးရှိပါတယ်။ တပ်စိတ်တိုင်းက အထူးကျွမ်းကျင်အောင် လေ့ကျင့်ရမယ့် သင်ခန်းစာ ၄ ခုရှိတယ်။

၁။ လက်နက်ကို ကျွမ်းကျင်စွာ ကိုင်တွယ်မှုနဲ့ ထိရောက်စွာ ပစ်ခတ်မှု။

လက်နက်ကို ကျွမ်းကျင်စွာ ကိုင်တွယ်မှုဆိုတာ ဖြုတ်တာ၊ တပ်တာ ဆေးကြော သန့်စင်တာ လိုအပ်သလို ပြုပြင်ထိန်းသိမ်းရတာ အန္တရာယ်မဖြစ်အောင် ကိုင်တွယ်ပစ်ခတ်နိုင်စွမ်းရှိတာတွေပါတယ်။ လက်နက်ရဲ့ သဘာဝကို သိရတယ်။ ကျည်အား မီးအားတွေသိရတယ်။ ထိရောက်တဲ့ အကွာအဝေးကို သိရတယ်။ လက်နက်နဲ့ ယဉ်ပါးအောင် နေရတယ်။ သေနတ်ကို Auto Response ရလာအောင် တရင်းတနှီး အသုံးချနိုင်စွမ်း ရှိရတာမျိုးပါ။ ပစ်မှတ်ကို မျက်လုံးထဲ ရိပ်ခနဲတွေ့လိုက်ရင် သေနတ်ဆီ လက်ကရောက်ပြီးသား။ အထူးချိန်ရွယ် ပစ်ခတ် တာမျိုး မဟုတ်ဘဲနဲ့ကို ထိမိပိုင်နိုင်အောင် တုံ့ပြန်ပစ်ခတ်နိုင်စွမ်း ရှိရတာမျိုးပါ။

၂။ စစ်မြေပြင် ကျွမ်းကျင်မှုနှင့် မြေကို မှန်ကန်စွာ ဝေဖန် သုံးသပ်တတ်ခြင်းနှင့် အသုံးပြုတတ်ခြင်း။

စစ်မြေပြင် Battle Ground ကို ကျွမ်းကျင်တယ်ဆိုတာ နယ်မြေကျွမ်းတယ်ဆိုတာထက် နည်းနည်းပိုပါတယ်။ မြေပြင်အနိမ့်အမြင့် ကတုတ်ကန်သင်း ဆင်းလျှောမတ်စောက် အကုန်အလွတ်ရနေတာမျိုးပါ။ ကျည်ကွယ် မျက်ကွယ် ချိုင့်ဝှမ်း ကုန်းတန်း အားလုံး မှတ်မိနေတာမျိုး။ ပစ်ထောက်မှောက်လိုမ့် အကြိမ်ကြိမ်လုပ်ဖူး

ဆောင်းပါး

တဲ့ မြေနေရာ အခင်းအကျင်းမျိုးကို ဆိုလိုတာပါ။ ဒီလို မြေကိုသိတဲ့အပြင် အထိရောက်ဆုံး အသုံးချတတ်တာမျိုး လည်း ဖြစ်ရဦးမယ်။ နေရာအသာစီးယူပြီး စစ်တိုက်နိုင်စွမ်း ရှိတာမျိုး၊ နေရာအနေအထားကို အားသာချက်ယူပြီး စနစ်တကျ အသုံးချတတ်အောင် လေ့ကျင့်ထားတာမျိုးပါ။

၃။ ပစ်ခတ်မှု နေရာကောင်းများကို ရွေးချယ် နေရာယူတတ်ခြင်းနှင့် ဆောက်လုပ်ခြင်း။

ပစ်ခတ်မှု နေရာကောင်းကို ရွေးချယ်တတ်တယ်ဆိုတာ ကိုယ်က ကျည်ကွယ်မျက်ကွယ်မှာ နေရာရပြီး ရန်သူက ပစ်ကွင်းထဲက ဖြတ်လျှောက်ရတာမျိုး။ ပိုင်တဲ့နိုင်တဲ့နေရာက ဆီးကြို တိုက်ခိုက် တတ်တာမျိုးပါ။ ကိုယ်က ကုန်းမြင့်အပေါ် စီးကနေ ထိထိရောက်ရောက်ပစ်ခတ်နိုင်ပြီး ရန်သူက မြေနိမ့်ချိုင့်ဝှမ်းထဲ ရောက်နေအောင် လုပ်တတ်တာမျိုးဖြစ်တယ်။ ကိုယ်ကရန်သူ့ခွင်ထဲဝင်လာရရင်လည်း မြေနိမ့်ပစ်ကွင်းထဲ ကျည်ကွယ်မဲ့ရာက ဖြတ်မလျှောက်မိအောင် အမြဲ သတိထားတတ်ရမယ်။ လိုအပ်ရင် ကတုတ် ဘန်ကာခံတပ်တွေ နေရာအသာစီးယူ ဆောက်လုပ်နိုင်စွမ်းရှိရမယ်။ ဒီလိုလုပ်နိုင်တာ လုပ်တတ်တာက သေနတ်မပစ်ခင် တဝက်နိုင်ပြီးသားလို့တောင် ဆိုနိုင်တာပါ။

၄။ ရုပ်ဖျက် ဖုံးကွယ်ခြင်းနှင့် အကာအကွယ်များကို စီမံပြုလုပ်ခြင်းနှင့် အသုံးချခြင်း။

ပြောက်ကျားစစ်သားဟာ ရန်သူနဲ့ ထိတွေ့ကျွမ်းဝင်နေသူလည်း ဖြစ်နိုင်တယ်။ နေ့လယ်သမား၊ ညပြောက်ကျားဆိုသလို လှုပ်ရှားဆောင်ရွက်ရတာမျိုးမို့ ကိုယ့်ကို ရန်သူကမမှတ်မိအောင် ရုပ်ဖျက်လှုပ်ရှားရတာမျိုး မလွှဲမသွေရှိပါတယ်။ မျက်နှာကို အိုးမဲတွေ သုတ်လိမ်းထားတာမျိုး၊ သစ်ကိုင်းသစ်ခက်တွေ ရောယှက်ဖုံး ကွယ်ထားတာမျိုး။ သစ်ပင်တောအုပ် တောင်ကုန်း သဲကန္တာရနဲ့လိုက်ဖက်တဲ့ ဝတ်စားဆင်ယင်မှုတွေ ရွေးချယ် အသုံးချတတ်တာမျိုးတွေလုပ်ရတယ်။ ဒီလို အကာအကွယ်တွေကို စီမံပြုလုပ်ပြီး စနစ်တကျအသုံးပြုတတ်တာက စစ်ရေးမှာ အသာစီး ရစေတယ်။

တိုက်ပွဲမှာ ရဲဘော်တွေရဲ့အသက်က ကိုယ့်လက်ထဲမှာ ရှိနေတယ်ဆိုတာ တပ်စိတ်မှူးတိုင်း သဘောပေါက်ရတယ်။ ဒါကြောင့်လည်း တပ်စိတ်မှူးဖြစ်လာမယ့်သူဟာ စစ်ပညာကို အထူးကြိုးစားလေ့လာပြီး၊ အောင်မြင်ကိုးစားထိုက်တဲ့ ခေါင်းဆောင်ငယ် ဖြစ်လာအောင် မှတ်ကျောက် အတင်ခံနိုင်ရမယ်။

တပ်မှူးရဲ့ မှန်ကန်တဲ့ စီမံခန့်ခွဲမှုဟာ မှန်ကန်တဲ့ သန္နိဋ္ဌာန်ချမှုက ပေါ်ပေါက်လာရတာဖြစ်တယ်။ ဒါကြောင့် တပ်စိတ်မှူးတယောက်ဟာ ဆုံးဖြတ်ချက်ပြတ်သားခိုင်မာရမယ်။ ဒါတင်မက မှန်ကန်တဲ့ သန္နိဋ္ဌာန်ချမှု ဟာ မှန်ကန်တဲ့ ဝေဖန်ပိုင်းခြားမှုက ပေါ်ပေါက်လာရတာဖြစ်တယ်လို့ ဥက္ကဋ္ဌမော်က ပြောဖူးတယ်။ မှန်ကန်တဲ့ ဝေဖန်ပိုင်းခြားမှုဆိုတာကလည်း စေ့စပ်သေချာပြီး လိုအပ်တဲ့ထောက်လှမ်းမှုတွေနဲ့ အဲသလို ထောက်လှမ်းရရှိတဲ့ အချက်အလက်တွေကို ဆက်စပ်စဉ်းစား ဆင်ခြင်နိုင်စွမ်းက ပေါ်ပေါက်လာတာလို့ ဆက်ပြောပါတယ်။ ပြောက်ကျား စစ်သားကောင်းတယောက် ပြောက်ကျားတပ်မှူးကောင်းတယောက်ဟာ မိုးပေါ်က ကျလာတာ မဟုတ်ဘူး။ လက်တွေ့တိုက်ပွဲနဲ့ စစ်မြေပြင်ထဲကသာ ပေါ်ပေါက်လာရတာဖြစ်တယ်။ ဒါကြောင့် ရဲဘော်တို့ဟာ စစ်မြေပြင်က သင်ခန်းစာတွေကို အသက်နဲ့ရင်းပြီး အပတ်တကုတ် လေ့လာနိုင်စွမ်း ရှိရလိမ့်မယ်။

● တင်မြင့်ဇော်

# စစ်ရေးစစ်ရာမှတ်စုများ(၃)

● ဘိုးဒေါင်း ●



စစ်ရေးစစ်ရာမှာ အမိန့်မပေးမီအထိ ဒီမိုကရေစီသဘောရှိပေမယ့် စစ်မြေပြင်မှာပေးတဲ့အမိန့်ကတော့ ဒီမိုကရေစီမရှိဘူး။ အမိန့်မှာ True or False မရှိဘူးဆိုတာ နားလည်ထားဖို့လိုတယ်။ ကြိုတင်ခံယူထားဖို့ လိုတယ်။ စစ် စည်းကမ်းကို တင်းပြည့်ကျပ်ပြည့်လိုက်နာကြဖို့လိုတယ်။ တပ်စည်းကမ်းကိုတော့ မပေါ့လျော့မိစေနဲ့။ တပ်စည်း ကမ်းပေါ့လျော့ခြင်းဟာ အချိန်မရွေး ကိုယ့်တပ်ကိုယ် ဒုက္ခပေးတတ်တယ်လို့ စွဲစွဲမြဲမြဲမှတ်ထားရမယ်။

စစ်ပညာကျမ်းတွေဟာ ကိုးကားဖို့ပဲဖြစ်တယ်။ တိုက်ရိုက်ပုံတူကူးလို့မရဘူး။ တကယ့်တိုက်ပွဲဝင်ရောက်သူက လက်တွေ့မြေပြင်အခြေနေကို ဆင်ခြင်ဉာဏ်သုံး လုပ်ဆောင်ရတယ်။ တိုက်ပွဲတခုနဲ့တခု အသုံးပြုတဲ့ဗျူဟာတွေ တထပ်တည်းတူလို့မဖြစ်ဘူး။ တိုက်ပွဲတခုကို ပုံစံတမျိုးစီတိုက်ရတယ်။

ရန်သူကလည်း ကိုယ့်ဗျူဟာကို တိုက်ပွဲတခုပြီးတိုင်း လေ့လာသုံးသပ်လေ့ရှိနိုင်တယ်။ ကိုယ်ကလည်း တိုက်ပွဲတခုပြီးတိုင်း ကိုယ့်နည်းဗျူဟာနဲ့ ရန်သူ့စစ်နည်းဗျူဟာကို ပြန်လှန်သုံးသပ်ကြရမယ်။ အားသာချက် အားနည်းချက်ကိုရှာရတယ်။ ဒါကြောင့် တိုက်ပွဲတခုကို ပုံစံတမျိုးစီထားပြီး တိုက်ဖို့လိုတယ်။ ပုံသေကားချပ်မလုပ်မိစေနဲ့။

စစ်ရေးခေါင်းဆောင်တယောက်ဟာ မိမိစီမံအုပ်ချုပ်ခွင့်ရတဲ့ စစ်သည်တော်အားလုံးကို စနစ်တကျ တာဝန်ချပေးနိုင်ဖို့လိုတယ်။ လက်နက်အင်အား လူအင်အားကို စနစ်တကျအကွက်ချပြီး အသုံးချတတ်ရမယ်။ တိုက်ပွဲအတွင်း လတ်တလောအခြေအနေကို အကောင်းဆုံးအနေအထားရဖို့ စီစဉ်နိုင်ရမယ်။

ဒါအပြင် ရန်သူရဲ့ တိုက်စစ်ဆင်ပုံအနေအထားကို အချိန်တိုတိုအတွင်း လေ့လာသိရှိနိုင်ရမယ်။ ရန်သူရဲ့ တိုက်စစ်၊ ခံစစ်၊ ရန်သူရဲ့ အားသာချက်၊ အားနည်းချက်။ ရန်သူအဓိကထား အသုံးပြုတဲ့ လက်နက်ကြီးများနဲ့ ခြေဖျက်နိုင်တဲ့နည်းလမ်းတွေကို တိုက်ပွဲဝင်ရင်း စနစ်တကျ ခန့်မှန်းတွက်ချက်နိုင်စွမ်းရှိရမယ်။

စစ်ရေးခေါင်းဆောင်တယောက်အတွက် အရေးကြီးတဲ့တွက်ချက်မှုတခုက ထောက်ပံ့ပို့ဆောင်ရေးပဲ။ ရိက္ခာ၊ ခဲယမ်းမီးခြောက်နဲ့ အလွယ်တကူအလျင်အမြန်ရောက်လာမယ့် တပ်အကူလမ်းကြောင်းပဲ။ ကိုယ့်တပ်အတွက်အသုံးပြုမယ့် လက်နက်အင်အားကိုလည်း စစ်မထွက်မီ ထည့်သွင်းတွက်ဆထားရမယ်။

လက်ရှိအခြေအနေအရ ကိုယ့်ဘက်က တပန်းသာနေတာက ကြေးစားစစ်ခားပြတို့ရဲ့ စိတ်ဓာတ်မျိုးမဟုတ်ဘဲ ယုံကြည်ချက်၊ ခံယူချက်နဲ့ စစ်တိုက်သူတွေဖြစ်နေခြင်းပဲ။ ယုံကြည်ချက်အရစစ်တိုက်သူနဲ့ ကြေးစားစစ်တိုက် သူတို့ဟာ စိတ်ဓာတ်ချင်းမတူကွဲပြားတယ်။ ကိုယ့်အတွက်က ကိုယ့်ယုံကြည်ချက်ဟာ ပန်းတိုင်ပဲ။ ကြေးစားရဲ့ပန်းတိုင်က စစ်ပွဲမှာ သူ့အသက်ရှင်ရေးအတွက်ပဲ။ ဒါကြောင့်တရားသောစစ်မှာ ငါတို့နိုင်မှာ အသေအချာပဲလို့ အမှာစကားပါး လိုက်ပါးလိုက်ပါရစေ။ နောက်တပတ်မှာ ထပ်ပြောကြတာပေါ့နော်။

● ဘိုးဒေါင်း

ဆောင်းပါး

# နွေဦးရဲ့ အမျိုးသားသွေးစည်းညီညွတ်မှုသနွေ

● အောင်မိုးဇော် ●



ထူးထူးခြားခြားတိုက်တိုက်ဆိုင်ဆိုင် ကျနော်တို့တိုင်းပြည်မယ် ဖက်ဆစ်တွေကိုမောင်းထုတ်တဲ့ လူထုရဲ့တော်လှန်ရေးလှုပ်ရှားမှုတွေဟာ တပေါင်းတန်ခူးနွေဦးကာလတွေနဲ့ပဲ ကြုံခဲ့ရတယ်၊ ဆုံနေရတယ်။

၁၉၄၅ ခုနှစ်က အခုလို အခုလို နွေဦးရာသီမှာပဲ ဖက်ဆစ်ဂျပန်တွေကို ကျနော်တို့ပြည်သူတွေ အမိမြေပေါ်က မောင်းထုတ်ခဲ့ကြတယ်။ နှစ်ပေါင်း ၇၀ ကျော်ကြာပြီး ၂၀၂၁ ခုနှစ် ကနေ့နွေဦးကာလတွေမှာပဲ ကျနော်တို့ပြည်သူတွေက ဖြစ်တွင်းဖြစ် ဖက်ဆစ်လက်သစ် စစ်ဝါဒီတွေကို ကျနော်တို့မြေပေါ်က မောင်းထုတ်ပြီး သင်္ဂြိုဟ်ပစ်ဖို့ လုံးပန်းနေကြတယ်။ ဒီလိုကြိုးစားတဲ့နေရာမယ် အခု ခေတ်စားနေ

ဆောင်းပါး

တဲ့ အပြောအဆိုတွေနဲ့ဆို Generation X, Y, Z အားလုံးကို လမ်းပေါ်တွေမယ်၊ တိုက်ပွဲမျက်နှာစာ အသီးသီးမယ် တွေ့ကြရမှာဖြစ်တယ်။ Generation Z တွေရဲ့ ကြိုးစားမှုတွေကိုတော့ အလေးပြုကြရပါလိမ့်မယ်။ မျိုးဆက်အသီးသီးတင်မကပါဘူး လူမျိုးပေါင်းစုံ၊ ဘာသာပေါင်းစုံ၊ လူတန်းစားအလွှာအစုံ ကျား/မ မရွေး၊ ဆင်းရဲ/ချမ်းသာမရွေး တတိုင်းပြည်လုံးကို ကနေ့ပြည်တွင်းဖြစ် ဖက်ဆစ်တွေကို တော်လှန်တဲ့ကာလမှာ တွေ့ကြရမှာဖြစ်တယ်။ စစ်ဝါဒီတွေကတဖက်၊ လူမျိုးစုံ ပြည်သူလူထုကြီးကတဖက် ဖြစ်နေတဲ့ ကနေ့ကာလတိုင်းပြည်ရဲ့ ပဋိပက္ခကို ထင်ထင်ရှားရှားတွေ့မြင်နေရတယ်။ အဆိုးတွေထဲက အကောင်းလို့ဆိုချင်တယ်။ လွတ်လပ်ရေးနဲ့အတူ ပြိုကွဲခဲ့ရတဲ့ ကျနော်တို့တိုင်းပြည်ရဲ့ အမျိုးသား သွေးစည်းညီညွတ်ရေးကို ကျနော်တို့မှုန်ပြပြ ပြန်ပြီးမြင်ကြရပြီ။

၁၉၄၅ ခုနှစ်ဖက်ဆစ်တော်လှန်ရေးအတွင်းမှာလည်း နိုင်ငံရေးပါတီတွေ၊ ဘာသာရေး လူမှုရေး အသင်းအဖွဲ့တွေ၊ လူမျိုးစုံပြည်သူတွေ သွေးစည်းညီညွတ်ရေးကို တော်လှန်ရေးနဲ့အတူ တည်ဆောက်နိုင်ခဲ့ကြတယ်။ တိုင်းပြည်ရဲ့ ကံကြမ္မာပဲလို့ဆိုရမလားမသိ ဖက်ဆစ်တော်လှန်ရေးအတွင်းမှာ တည်ခဲ့တဲ့ အမျိုးသားသွေးစည်းညီညွတ်မှုသန္ဓေဟာ လွတ်လပ်ရေးရအပြီးမှာပဲ စစ်ဝါဒကြောင့်၊ ဂိုဏ်းဂဏတွေကြောင့် သားလျှောခဲ့ရတယ်။ ပြည်တွင်းစစ်မီးတောက်ခဲ့ရတယ်။ အဲ့ဒီစစ်မီးက ကနေ့အထိ မငြိမ်းသေးဘူး။

အခု ၂၀၂၁ နွေဦးတော်လှန်ရေးကတော့ ပြည်တွင်းစစ်ကိုငြိမ်းသတ်ပစ်မယ့်လက္ခဏာတွေ၊ ပြည်တွင်းဖြစ်ဖက်ဆစ်တွေကို မြေမြှုပ်သင်္ဂြိုဟ်ပစ်မယ့်လက္ခဏာတွေ၊ တိုင်းပြည်အတွင်းက အမျိုးသားအသီးသီးရဲ့သွေးစည်းညီညွတ်မှုကို ဖော်ဆောင်ပေးမယ့်လက္ခဏာတွေ အထင်အရှားတွေ့နေရတယ်။ ဒီ တော်လှန်ရေးကြီးအတွင်းမှာပဲ မျိုးဆက်အသီးသီး၊ လူမျိုးအသီးသီး၊ လူတန်းစားအလွှာအသီးသီးရဲ့ စုစည်းမှုကို တွေ့နေရတယ်။ ဒါ့အပြင် လက်နက်ကိုင်၊ လက်နက်မကိုင် နိုင်ငံရေးအင်အားစုအသီးသီးရဲ့ ပူးပေါင်းဆောင်ရွက်မှု၊ အပြန်အလှန်ဖေးမကူညီမှုတို့ကိုလည်း တွေ့နေကြရတယ်။

အမှန်တော့ ဒီပူးပေါင်းဆောင်ရွက်မှုနဲ့ တော်လှန်ရေးကြီးအတွင်းမယ် ပြည်သူအသီးသီးရဲ့ပါဝင်မှုတွေဟာ ကျနော်တို့တိုင်းပြည်မယ် နှစ်ကာလကြာရှည်စွာ ပျောက်ဆုံးနေတဲ့ အမျိုးသားသွေးစည်းညီညွတ်မှု(ဝါ) အမျိုးသားအသီးသီးရဲ့ သွေးစည်းညီညွတ်မှုသန္ဓေလို့ ကျနော်ဆိုချင်တယ်။ ဒီနွေဦးတော်လှန်ရေးအတွင်းမယ် တည်နေတဲ့ ဒီသန္ဓေကို ကျနော်တို့ အောင်အောင်မြင်မြင် မွေးဖွားကြရလိမ့်မယ်။

နွေဦးတော်လှန်ရေး အောင်ရမှာဖြစ်တယ်၊ အောင်မြင်အောင် ကျနော်တို့ကြိုးစားရင်း ကျနော်တို့ တော်လှန်ရေးအတွင်းမယ် တည်နေတဲ့ အမျိုးသားသွေးစည်းညီညွတ်မှုသန္ဓေကိုလည်း ကျန်းမာလာအောင်၊ ကြီးထွားလာအောင်၊ အောင်အောင်မြင်မြင်မွေးဖွားနိုင်အောင် ကျနော်တို့ ဂရုတစိုက် ကြိုးစားကြပါစို့၊ ကျနော်တို့ ပေးဆပ်ကြပါစို့ ...။

● အောင်မိုးဇော်

# လီးစနစ်

# ရိုက်သွင်းနေပြီ

သဲအိတ်တွေနဲ့ အတားအဆီးတွေကို နီးစပ်ရာအိမ်တွေ၊ လမ်းတွေက လူတွေနဲ့ Fatigue ခိုင်းပြီး ရှင်းလင်းရေးလုပ်နေတာတွေ တွေ့မိတယ်။

အဲ့လိုခိုင်းခံရလို့ အချင်းချင်း မကျေမနပ်ဖြစ်တဲ့ အသံတွေလည်းကြားမိတယ်။ လက်ရှိသုံးနေတာ စစ်သင်တန်းကျောင်းတွေမှာ သုံးလေ့ရှိတဲ့ One For All System ပါ။ တယောက်မကောင်း အများဆိုတဲ့ ပုံစံပေါ့။

အိမ်သာထဲ ဆေးလိပ်တိုတခုတွေ့တယ် ဆိုပါစို့။ အဲ့ဆေးလိပ်တို ဘယ်သူသောက်ခဲ့တာလဲဆိုပြီး တရားခံလိုက်ရှာမနေဘူး။ အဲ့အိမ်သာ သုံးနေတဲ့လူတိုင်းကို အပြစ်ပေးလိုက်တယ်။ တယောက်အပြစ်ဖောက်ရင် ဖောက်တဲ့ တယောက်တည်းကိုရှာပြီး အပြစ်ပေးတာမျိုးမဟုတ်ဘဲ ကျန်တဲ့ အပြစ်နဲ့မဆိုင်တဲ့ နီးစပ်ရာလူတွေ အကုန်လုံးကို အပြစ်ပေးတဲ့ပုံစံမျိုး။ နောက်တခါထပ်ဖောက် အဲ့လိုပဲ ထပ်အပြစ်ပေးတယ်။

နောက်ပိုင်း ဘာဖြစ်လာလဲဆိုတော့ အိမ်သာထဲလာပြီး ဆေးလိပ်ခိုးသောက်တတ်တဲ့လူတွေကို အချင်းချင်း ငြိုငြင်လာတယ်။ အိမ်သာထဲမသောက်ဖို့ ဝိုင်းတားတယ်၊ တားလို့မရရင် Senior သတင်းပို့တယ်။ နောက်ဆုံးပြောမရရင် စောင်ကြားအုပ်ပြီး ဝိုင်းသမတယ်။ ပြောရမယ်ဆိုရင်တော့ အချင်းချင်း ပြန်ထိန်းခိုင်းတဲ့ ပုံစံပေါ့။

ဒီလိုအခြေအနေကိုကျော်လွှားနိုင်ဖို့က အချင်းချင်း ရဲဘော်ရဲဘက်စိတ် အပြည့်ရှိဖို့လိုတယ်။

ဆေးလိပ်သောက်တတ်တဲ့လူ ဘယ်လောက်များလဲဆိုတာရယ် အဲ့လူတွေမှာ ဆေးလိပ်သောက်ချင်တဲ့ အာသီသ ဘယ်လောက်ရှိလဲ ဆိုတာရယ်ကလည်း စကားပြောတယ်။

နောက်ဆုံးမှာပြည်သူတွေပါ ဒလန် ဖြစ်လာအောင်လုပ်နေတဲ့ "လီး"စနစ်တခုကို ရိုက်သွင်းနေတာပါ။

အဲ့စနစ်ထဲဝင်သွားတဲ့ကောင်ကတော့ ဒလန်အဆင့်မြင့် "လီးဒလန်"ဖြစ်မှာပါ။

မှိုင်းမမိပါစေနဲ့။

ရိုင်းသွားရင် Sorry ပါ…။



# နွေဦးတော်လှန်ရေးပွဲခံ စစ်ကောင်စီကို အမြစ်လှန်ပစ်စို့

•••••••••

မိုးလိုတော့ဗ်–သံချပ်

(မိုးမိုး မိုးလားမောင်တို့ လေလေ လေလားမောင်တို့) ၂

(မိုးနဲ့လေနဲ့နှစ်ပါးဆိုင် ပေါက်ဖွားလာတာ မိုလိုတော့ဗ်ပဲ) ၂

(မိုလိုတော့ဗ်ရဲ့ပေါက်ကွဲသံ ပြည်သူ့ထံမှာအားတွေပြည့်ဖို့) ၂

(ဗိုလိုတော့ဗ်ရဲ့ပေါက်ကွဲသံ စစ်အာဏာကိုပြောင်းပြန်လှန်ဖို့) ၂

(စစ်အာဏာကိုတို့ဖိဆန် နွေဦးတော်လှန် နှစ်ကူးရောက်ပေါ့) ၂

(သုံးလနီးပါးအာခံလာ လူထုကနော် တိုက်ပွဲပျော်ဟေ့) ၂

(မိုလိုတော့ဗ်တို့ကြွေးကြော်သံ ဒီသကြန်ဟာတော်လှန်သကြန်တဲ့) ၂

(တော်လှန်ရေးအကြောင်းပြောကြမယ် တရက်ဖေဖော်ဝါ ကမ္ဘာမကြေဘူး) ၂

(အာဏာရမှုက်တက်ကာနေ ပြည်သူ့မဲကိုနင်းခြေခဲ့ပေါ့) ၂

(တို့ပြည်သူရဲ့မဲတပြားဟာ ကျည်ဆန်တွေထက်တန်ဖိုးရှိရဲ့) ၂

(လူထုတိုက်ပွဲအရှိန်အဝါ သိပ်ကောင်းပါတယ်သိန်းသန်းချီခဲ့) ၂

(ကမ္ဘာကလည်းသိနေပြီ တို့ပြည်သူတွေညီညာကြလို့) ၂

(R2P လည်းမျှော်ရတာ သစ်ကုလားအုပ်လိုလည်ပင်းရှည်လို့) ၂

(ကုလသမဂ္ဂမျှော်ကြပြန် တံခါးပိတ်ဆွေးနွေးစိုးရိမ်နေတုန်း) ၂

(တရုတ်ရုရှားယုတ်မာပြီ သုံးလိုက်ပြန်ပြီဗီတိုအာဏာ) ၂

(တို့ပြည်သူတွေဆန့်ကျင်တယ် တရုတ်အလံကိုမီးရှို့ဖျက်ဆီး) ၂

(တို့ပြည်သူတွေဆန့်ကျင်တယ် တရုတ်ပစ္စည်းမသုံးဘူးဆိုပဲ) ၂

(မာမာထန်ထန်ကြွေးကြော်သံ မောင်းပြန်ကိုလေ ဒေါင်းအလံနဲ့တိုက်) ၂
(စစ်ကောင်စီရဲ့လက်ပါးစေ ဒလံတွေကိုအပြတ်ရှင်းကြ) ၂
(ညှော်စာရင်းတိုင်ဖို့ဆော်သြနေ ရပ်ကွက်ရုံးကိုဒံပေါက်ကြွေးစို့) ၂
(ရဲနဲ့စစ်သားလာခဲ့ရင် စတုဒီသာဟာဒံပေါက်ပါပဲ) ၂
(ဒံပေါက်နဲ့လေးမွှေးလိုက်တာ တို့ပြည်သူမှာစေတနာအပြည့်ဗျို့) ၂
(အင်တာနက်တွေဖြတ်ပစ်တယ် မိုလိုတော့ဗ်နဲ့အံတုခဲ့ကြ) ၂
(လှုပ်ရှားမှုတွေအဆက်မပြတ်ရန် မိုလိုတော့ဗ်စာစဉ်မျှဝေခဲ့ကြ) ၂
(ဖြဲလိုက်ခြောက်လိုက်လုပ်နေတာ အာဏာရူးဟာ တပ်ပျက်နေပေါ့) ၂
(ပြည်သူ့ဝန်ထမ်းဖြစ်ချင်ရင် CDM သာလုပ်ကြပါဗျို့) ၂
(ကျွန်ခံချင်တဲ့ဝန်ထမ်းတွေ CDM တွေ မလုပ်နဲ့ မလုပ်နဲ့) ၂
(တို့ပြည်သူတွေတောင်းဆိုတာ ပြည်သူ့အာဏာပြည်သူ့ပြန်ပေး) ၂
(တောင်းယူလို့မှမရတော့ရင် တိုက်ယူရမယ်လူထုတိုက်ပွဲ) ၂
(လူထုတိုက်ပွဲချီမယ်ဆို လူမျိုးစုတွေစည်းလုံးကြစို့) ၂
(လူမျိုးစုအားလုံးပါဝင်အောင် ဖက်ဒရယ်အရေးကိုမမေ့ပါနဲ့) ၂
(ဖက်ဒရယ်အရေးကိုပြောမယ်ဆို ရွှေရည်စိမ်တော့မဖြစ်စေနဲ့) ၂
(၂၀၀၈ ကိုဖျက်လိုက်ပြီ CRPH ကို ကြိုဆိုကြစို့) ၂
(CRPH ကိုတောင်းဆိုချင် လူမျိုးစုအသံနားထောင်ကြဟေ့) ၂
(လူမျိုးများကိုလေးစားပါ ပစ်ပယ်ထားရင်ငါတို့မနိုင်ဘူး) ၂
(အဲဒီလိုမှမဟုတ်ဘူးဆို ဖက်ဒရယ်အာမီ မလွယ်ဘူးဗျ) ၂
(ဖက်ဒရယ်အာမီဖွဲ့နိုင်ရင် နွေဦးအောင်ပွဲ အသေချာပဲဗျို့) ၂
(ဂဒါဖီကြီးရှောသွားတာ လစ်ဗျားပြည်သူညီညာခဲ့လို့) ၂
(မင်းအောင်လှိုင်လည်းသေစေချင် ငါတို့ပြည်သူညီညာကြဟေ့) ၂
(စစ်ဗိုလ်အားလုံးကြိုးစင်တင် တို့ပြည်သူတွေအောင်ပွဲဆီသို့) ၂
(နွေဦးတော်လှန်အောင်ပွဲခံ စစ်ကောင်စီကို အမြစ်လှန်ပစ်စို့) ၄





## တပတ်အတွင်း သာရေးသတင်းများ

- ကသာခရိုင်၊ ပင်လယ်ဘူးမြို့တွင် ထွေအုပ်ရုံးနှင့် မြို့နယ်တရားရုံး မီးလောင်ပြာကျခဲ့။ (၇. ၄ .၂၀၂၁)
- ကချင်ပြည်နယ်၊ ဗန်းမော်ခရိုင်၊ ဒေါ့ဖုန်းယန် ဟန်ကိုင်းအောက် နှောင်းဝမ်းသွားရာလမ်းတွင် စကစ တပ်သားများ မိုင်းနင်းမိ။ ၅ ဦးသေ၊ ၈ ဦး ဒဏ်ရာပြင်းထန်။ (၈ .၄ .၂၀၂၁)
- ကချင်ပြည်နယ်၊ မိုးကောင်းမြို့နယ်တွင် စစ်တပ်ကား ၂ စီးကို KIA မှ ဗုံးခွဲတိုက်ခိုက်။ (၉ .၄ .၂၀၂၁)
- ရှမ်းပြည်နယ်မြောက်ပိုင်း၊ လားရှိုးမြို့နယ်၊ နောင်မွန်ကျေးရွာအုပ်စုရှိ ရဲစခန်းတခုကို မဟာမိတ် ၃ ဖွဲ့မှဝင်ရောက်တိုက်ခိုက်၊ ရဲအုပ်အပါအဝင် ၁၅ ဦး သေဆုံး။ (၁၀. ၄ .၂၀၂၁)
- မူဆယ်မြို့ရှိ မင်္ဂလာမူဆယ်ရဲကင်းနှင့် သိန်းသန်းချိုကားဝင်းအနီး ရဲကင်းတခု မီးလောင်။ (၁၁ .၄ .၂၀၂၁)
- စစ်ကိုင်းတိုင်း၊ တမူးမြို့တွင် စကစ နှင့် ပြည်သူ အပြန်အလှန်ပစ်ခတ်မှုဖြစ်ပွားခဲ့ရာ စကစ တပ်မှ ၁၈ ဦးသေ။ (၁၁ . ၄ .၂၀၂၁)
- ကချင်ပြည်နယ်၊ မိုးမောက်မြို့အနီး KIA နှင့် စကစ တိုက်ပွဲဖြစ် စကစ တပ်မှ တပ်သား အများ အပြား သေဆုံး။ (၁၁ . ၄ .၂၀၂၁)
- ဗန်းမော်ခရိုင်တွင် ခမရ ၃၂၀ တပ်စခန်းတခုနှင့် တာပိန်မြစ်ကြိုးတံတား ရဲစခန်းတခုအား KIA မှ သိမ်းပိုက်ခဲ့။ (၁၂ . ၄ .၂၀၂၁)
- မြစ်ကြီးနားမြို့ တပ်ကုန်းရပ်ကွက်ရှိ စစ်တပ်ပိုင် မိုင်တဲရုံးအား ဗုံးဖြင့်အပစ်ခံရ။ (၁၂ . ၄ .၂၀၂၁)
- မိုးကုတ်မြို့အနီး ချဲဘုရားတောင်အနီးတဝိုက်တွင် တိုက်ပွဲဖြစ်ပွား။ စကစ တပ်မှ တပ်သား ၁၀ ဦး သေဆုံး။ (၁၃ . ၄ .၂၀၂၁)
- ကချင်ပြည်နယ် ဖားကန့်မြို့တွင်ဆန္ဒပြသူများအား ဖြိုခွင်းရန်လာသည့် ရဲနှင့်စစ်တပ်ယာဉ် တန်းအား KIA မှ အဝေးထိန်းမိုင်းဖြင့်ဖောက်ခဲ့။ ရဲနှင့်စစ်သား ဒဏ်ရာပြင်းထန်။ (၁၃ . ၄ .၂၀၂၁)



**ယခု "သာရေးသတင်းများ"သည် မိုလိုတော့မ်စာစဉ်မှ**
**လက်လှမ်းမီသလောက်စုစည်းထားသော တပတ်အတွင်း သတင်းများသာဖြစ်ပါသည်။**
**ဤအထဲတွင် စစ်တပ်ပိုင်အဆောက်အအုံများနှင့် ကားများ၊ ရပ်ကွက်ထွေအုပ်ရုံးများ**
**ဗုံးပေါက်ကွဲမှုသတင်းများနှင့် မီးလောင်ကျွမ်းမှုသတင်းများကို**
**စာမျက်နှာအခက်အခဲကြောင့် မဖော်ပြနိုင်ခဲ့ပါ။**
**နောက်တပတ်တွင် သာရေးသတင်းများကို စာမျက်နှာတိုး၍**
**ဝေဝေဆာဆာဖော်ပြနိုင်ရန် ပြည်သူများက သာရေးသတင်းများတိုးပွားဖို့**
**ကိုယ်တိုင်ဖန်တီး၍ တိုက်ပွဲဝင်ပေးကြပါရန် မိုလိုတော့မ်မှ တိုက်တွန်းနှိုးဆော်လိုက်ရပါသည်။**